ကုမ္ပဏီအမည်။ ဘာက်စ်တ်ဖိုး ကုမ္ပဏီလီမိတက်

လုပ်ငန်း ။ CMPစနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vestsနှင့် Pantsစသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၀-၂-၂၀၁၅ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၉-၃-၂၀၁၅ | ၂၅-၄-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၉-၃-၂၀၁၅ | ၂-၄-၂၀၁၅ | |
| | (ဂ)စက်မှုဝန်ကြီးဌာန | ၉-၃-၂၀၁၅ | ၂၅-၃-၂၀၁၅ | |
| | စက်မှုဝန်ကြီးဌာန (ဒုတိယအကြိမ်) | ၁၉-၅-၂၀၁၅ | ၂၉-၅-၂၀၁၅ | |
| | (ဃ)CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ၉-၃-၂၀၁၅ | ၂၅-၃-၂၀၁၅ | |
| | CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ (ဒုတိယအကြိမ်) | ၁၈-၅-၂၀၁၅ | ၁၁-၆-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၇/၂၀၁၅) သို့အစည်းအဝေး တင်ပြခြင်း | ၁၆-၂-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၁၆-၂-၂၀၁၅ | | |
| ၅ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၁၁-၃-၂၀၁၅ | | |
| ၆ | ကုမ္ပဏီသို့အဆိုပြုလွှာပြန်လည်ပေးပို့ခြင်း | ၅-၅-၂၀၁၅ | | |
| ၇ | ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်ပြီး အဆိုပြုလွှာ (၁၀)စုံ ပေးပို့ခြင်း | ၁၀-၇-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၁၅၀)ရက်** | | |

မှတ်ချက်။ ကုမ္ပဏီမှဌာနဆိုင်ရာများ၏ သဘောထားမှတ်ချက်နှင့်အညီ ပြန်လည်ပြင်ဆင်တင်ပြရန် ကြန့်ကြာနေပြီး အဆိုပြုလွှာအား ရက်ပေါင်း (၁၅၀)တွင် ပြန်လည်တင်ပြခြင်းဖြစ်ပါသည်။

အကြောင်းအရာ။ **ဘက်စ်တ်ဖိုး ကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့်Jacket, Blouse, Skirt, Shirt, Vestsနှင့် Pantsစသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း သည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဘက်စ်တ်ဖိုး ကုမ္ပဏီလီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးရုန်းစံ (အဘ-ဦးလီရှင်းကျီ) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company)ဖြစ်ပါသည်။ |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့်Jacket, Blouse, Skirt, Shirt, Vests နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - မြေကွက် အမှတ်(၄)၊ မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၅။ | မြေပိုင်ရှင် | - ဦးပွေးဝမ်းနှင့် ဦးကျော်စိုးမိုး |
| | မြေအကျယ်အဝန်း | - မြေ၂.၇၇ဧက(၁၁၂၀၉.၇၉ စတုရန်းမီတာ) အနက်မှ မြေ ၀.၅၇ ဧက (၂၃၀၆.၇၁ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၀၀ ပေ x ၂၅၀ပေ (တစ်ထပ်အဆောက်အဦ) |
| | မြေသက်တမ်း | - နှစ် ၆၀ ဂရန်တင်ပြထားပါသည်။ |
| | နှစ်စဉ်အဆောက်အဦငှားရမ်းခ | - ကျပ် ၂၆,၄၀၀,၀၀၀ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၁၀နှစ် (၅နှစ် ၂ကြိမ် သက်တမ်းတိုး) |
| ၇။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၆၂၉.၅၇၆ သန်း (US$ ၀.၄၀၆ သန်း အပါအဝင်)** |
| | - ငွေသား | - ကျပ် ၁၀၀.၀၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ (ပြည်တွင်း/ပြည်ပ) | - ကျပ် ၄၈၂.၈၆၀ သန်း (US$ ၀.၄၀၆ သန်းအပါအဝင်) |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ(ပြည်တွင်း) | - ကျပ် ၄၆.၇၁၆ သန်း |
| ၈။ | တည်ဆောက်ရေးကာလ | - ၁ နှစ် (ပြုပြင်ခြင်းလုပ်ငန်း) |
| ၉။ | ထုတ်လုပ်မှုနှင့် CMP လက်ခနှုန်း (၆နှစ်မြောက်) | |

| အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (Pcs) | CMP လက်ခနှုန်း (US $/ Pcs) |
|---|---|---|
| Jacket | ၇၂,၂၃၆ | ၃.၁၈ |
| Blouse | ၁၂၆,၄၁၃ | ၂.၃၂ |
| Skirt | ၁၄၄,၄၇၂ | ၁.၁၆ |
| Shirt | ၉၀,၂၉၅ | ၂.၃၂ |
| Vests | ၁၀၈,၃၅၄ | ၂.၃၂ |
| Pants | ၁၈၅,၂၂၀ | ၁.၇၄ |

| | | |
|---|---|---|
| ၁၀။ | ကုမ္ပဏီ၏ဝင်ငွေ(၆ နှစ်မြောက်)<br>အသုံးစရိတ်(၆ နှစ်မြောက်)<br>အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၁၄၇၁.၄၂၅ သန်း<br>- ကျပ် ၁၃၁၁.၂၅၇ သန်း<br>- ကျပ် ၁၆၀.၁၆၈ သန်း |
| ၁၁။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်<br>(၆ နှစ်မြောက်)<br>ဝင်ငွေခွန် | <br><br>- ကျပ် ၅၃.၃၈၉ သန်း<br>(အမေရိကန်တစ်ဒေါ်လာလျှင် ၁၀၀၀ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်) |
| ၁၂။ | အရင်းကြေကာလ | - ၃ နှစ် ၇လ |
| ၁၃။ | အရင်းအနှီးအပေါ် အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၃၀% |
| ၁၄။ | ရောင်းချပုံ နည်းစနစ် | - ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ |
| ၁၅။ | ဝန်ထမ်းအင်အားစုစုပေါင်း(တတိယနှစ်) | - ၅၀၅ ဦး |
| | ပြည်တွင်း | - ၅၀၀ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၃၀,၀၀၀နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၄၅၀,၀၀၀) |
| | ပြည်ပ | - ၅ ဦး (ပြည်ပဝန်ထမ်းများအား အချိန်ပိုင်းခန့်အပ်ထားမည်ဖြစ်ပါသည်။) |
| ၁၆။ | လျှပ်စစ်ဓာတ်အားသုံးစွဲမှု | - ၅၀၀ KVA |
| ၁၇။ | အခြား | - ထိုင်းနိုင်ငံ Central Garment Factory Co.,Ltd.နှင့် ချုပ်ဆိုထားသည့် Memorandum of Agreement တင်ပြထားပါ သည်။<br>- ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂% သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ် (မန္တလေးဘဏ်ခွဲ-၃)တွင် ဦးရန်နိုင်စံအမည် ဖြင့်၂၉-၁-၂၀၁၅ နေ့တွင် ငွေလက်ကျန် ကျပ်၆၅,၄၀၁,၀၀၀.၀၀၊ ဒေါ်နီနီအောင် အမည်ဖြင့် ငွေလက်ကျန် ကျပ်၃၀,၂၃၂,၃၃၀.၂၆ နှင့် ကမ္ဘောဇဘဏ် (လှိုင်သာယာ)တွင် ဒေါ်ရွှေဒြေးအမည်ဖြင့် ၆-၂-၂၀၁၅ နေ့တွင် ငွေလက်ကျန် ကျပ် ၁၀,၀၉၅,၅၀၂.၇၅ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ရေးအစီအစဉ် | - မီးဘေးကာကွယ်ရေး စီမံချက်အနေဖြင့် စက်ရုံ၏ ပတ်လည်တွင် ရေပိုက်ခေါင်းများနှင့် ပိုက်ပျော့များ သွယ်တန်းထားရှိခြင်း၊ မီးငြိမ်းသတ်ရန် မီးသတ်ဆေးဘူးများ ထားရှိခြင်း၊ တစ်နာရီလျှင် ရေဂါလံ(၅၀၀၀) စုပ်ယူနိုင်မည့်(၆) လက်မပိုက် စက်ရေတွင်းတစ်တွင်းနှင့် စုစုပေါင်း ရေဂါလံ (၁၀၀၀၀) ဆန့် ရေတိုင်ကီ တစ်လုံးထားရှိပြီး အမြဲရေဖြည့်ထားခြင်း၊ လောင်စာဆီများကို ကွန်ကရစ်ကန်အတွင်း ပိုက်ဖြင့် အရိပ်ရသည့်နေရာတွင် သိုလှောင်ထားခြင်း၊ စက်ရုံတွင် အရေးပေါ်ထွက်ပေါက်များထားရှိခြင်း၊ ဝန်ထမ်းများ |

| | | |
|---|---|---|
| | | ကို အရန်မီးသတ် သင်တန်းများ တက်ရောက်ရန် စီစဉ်ထားခြင်း၊ လျှပ်စစ်အန္တရာယ် မဖြစ်ပွားစေရန် Transformer Protectionများ၊ ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပြီး အလိုအလျောက်ဓါတ်အား ဖြတ်တောက်သည့် စနစ်များနှင့် အချက်ပေးစနစ်များ တပ်ဆင်ထားပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - ဘက်စ်တ်ဖိုး ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့်Jacket, Blouse, Skirt, Shirt, Vests နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | - မြေကွက် အမှတ်(၄)၊ မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၆၂၉.၅၇၆ သန်း (US$ ၀.၄၀၆ သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - ၁၀၀% ပြည်ပပို့ |
| လုပ်ငန်းသက်တမ်း | - ကနဦး ၁၀နှစ် (၅နှစ် ၂ကြိမ် သက်တမ်းတိုး) |
| အရင်းကြေကာလ | - ၃နှစ် ၇ လ |
| IRR | - ၃၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၄၀.၆၁၂ | |
| ၄ | ဝင်ငွေခွန် | ၂၃၈.၅၅၁ | ၃၃၃.၉၇၂ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | - | ၈၄.၀၀၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၈)ဦး |
| ၇ | CSR (၂%) | - | ၂၆.၇၁၂ |
| ၈ | မြေငှားရမ်းခရငွေ | | ၂၃၇.၆၀၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၅၀၀) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၂၈၂.၁၆၃ သန်း | ကျပ် ၆၈၃.၄၄၈ သန်း |
| | Cost : Benefit | ၁ : ၃ | |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရကာ-၃/မ-၁၁၆၆ / ၂၀၁၅(၁၂၉ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၃၀ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **ဘက်စ်တ်ဖိုးကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vestsနှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဘက်စ်တ်ဖိုးကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄)၊ မြေဧရိယာ ၂.၇၇၃ ဧက (၁၁၂၀၉.၇၉ စတုရန်းမီတာ)တွင် မြေဧရိယာ ၀.၅၇ဧက (၂၃၀၆.၇၁စတုရန်းမီတာ) အကျယ်အဝန်းရှိသော အဆောက် အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vests နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရုန်းစံ (အဘ-ဦးလီရှင်းကျီ )မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၄၀၆)သန်း အပါအဝင် စုစုပေါင်း ကျပ်(၆၂၉.၅၇၆)သန်းဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | **ထည့်ဝင်သည့်အမျိုးအစား** | **ကျပ်(သန်း)** |
|---|---|---|
| (က) | ငွေသား | ၁၀၀.၀၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ (ပြည်တွင်း/ပြည်ပ) | ၄၈၂.၈၆၀ (US$ ၀.၄၀၆ သန်းအပါအဝင်) |
| (ဂ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (ပြည်တွင်း) | ၄၆.၇၁၆ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၆၂၉.၅၇၆ (US$ ၀.၄၀၆ သန်း အပါအဝင်)** |

၃။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၅၀၀)ဦးနှင့် ပြည်ပမှ အချိန်ပိုင်း ဝန်ထမ်း (၅)ဦး စုစုပေါင်း(၅၀၅)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၃၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၄၅၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ အချိန်ပိုင်းဝန်ထမ်းများအတွက် ကုမ္ပဏီမှ နေထိုင်ရန်အတွက်သာ စီစဉ်ပေးမည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။

၄။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ကုန်ချောများကို ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှု နှင့် CMP လက်ခနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| **အမျိုးအမည်** | **ထုတ်လုပ်မှု အရေအတွက် (Pcs)** | **CMP လက်ခနှုန်း (US $/Pcs)** |
|---|---|---|
| Jacket | ၇၂,၂၃၆ | ၃.၁၈ |
| Blouse | ၁၂၆,၄၁၃ | ၂.၇၂ |
| Skirt | ၁၄၄,၀၇၂ | ၁.၁၆ |
| Shirt | ၉၀,၂၉၅ | ၂.၇၂ |
| Vests | ၁၀၈,၃၅၄ | ၂.၇၂ |
| Pants | ၁၈၅,၂၂၀ | ၁.၇၄ |

၅။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဉ်** | | **ကျပ်(သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၁၄၇၁.၄၂၅ |
| (ခ) | အသုံးစရိတ် | ၁၃၁၀.၂၅၇ |
| (ဂ) | အသားတင် အမြတ် | ၁၆၀.၁၆၈ |

၆။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၅၃.၃၈၉ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေ ကာလမှာ ၃ နှစ် ၇ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၃၀%ဖြစ်ပါသည်။ အမေရိကန် တစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၇။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာနနှင့် CMPလုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ တို့သို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိခြင်း၊ ပြည်တွင်းလုပ်သားအင်အား(၅၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေသဖြင့်(၂-၄-၂၀၁၅) ရက်နေ့ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၇/၂၀၁၅) ဆုံးဖြတ်ချက် အပိုဒ်(၅၄)အရ သတ်မှတ် စည်းမျဉ်း စည်းကမ်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်းနှင့် ဆောင်ရွက်သင့်သည့်လုပ်ငန်းတစ်ခုဖြစ်ပါကြောင်းသဘောထားပြန်ကြားထားပါသည်။

နောက်ဆက်တွဲ(က)

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု(CSR)အတွက် အမြတ်ငွေ၏(၂%)အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(၂) စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်။ **ကုမ္ပဏီမှ အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP)အစီရင်ခံစာအား ကုမ္ပဏီမှ တင်ပြထားပါသည်။ နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်း သုံးစွဲမှုနှုန်းတင်ပြချက်တွင် Threadသုံးစွဲမှုနှုန်းများနေသဖြင့် လျော့နည်းပြင်ဆင်တင်ပြရန်နှင့် Blouse အတွက် Thread သုံးစွဲမှုနှုန်း ဖြည့်စွက်တင်ပြရန် လိုအပ်ကြောင်း၊ နှစ်အလိုက် ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်းလိုအပ်ချက်အား နှစ်အလိုက် ကုန်ထုတ်လုပ်မှု နှင့် ကုန်ကြမ်း သုံးစွဲမှုနှုန်းအပေါ် မူတည်၍ စိစစ်ရာတွင် တွက်ချက်မှုများ မှားယွင်းတင်ပြထားသဖြင့် ဆီလျော်အောင် ပြင်ဆင်တင်ပြရန်နှင့် ကုန်ထုတ်လုပ်မှုတိုးမြှင့် တင်ပြရန် လိုအပ်ကြောင်း မှတ်ချက်ပြုထားခြင်းအပေါ် ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်းကို စက်မှုဝန်ကြီးဌာနမှလက်ခံနိုင်ကြောင်းစိစစ်ပြီးဖြစ်ပါသည်။ နောက်ဆက်တွဲ(ဂ)

(ဃ) **CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှ** Thread သုံးစွဲမှုနှင့် စပ်လျဉ်း၍ ပြင်ဆင်တင်ပြသင့်ပါကြောင်း၊ အဆိုပြုချက်ပါ ထုတ်လုပ်မှုနှုန်းထားနှင့် နှိုင်းယှဉ်ကြည့်ရာ Pant အမျိုးအစားတစ်ခုသာ အဆိုပြုချက် နှုန်းထားနှင့်အညီ ထုတ်လုပ်နိုင်ခြင်း မရှိကြောင်းတွေ့ရှိရပြီး လုပ်ဦးရေထပ်မံခန့်ထားရမည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားခြင်းအပေါ် **ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်းကို CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှလက်ခံနိုင်ကြောင်းစိစစ်ပြီးဖြစ်ပါသည်။ နောက်ဆက်တွဲ(ဃ)**

၈။ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်၊ မန္တလေးဘဏ်ခွဲ(၃)တွင် ဦးရုန်းစံအမည်ဖြင့်(၂၉.၁.၂၀၁၅)နေ့တွင် ငွေလက်ကျန် ကျပ်၆၅,၄၀၁,၀၀၀.၀၀၊ ဒေါ်နီနီအောင်အမည်ဖြင့် ငွေလက်ကျန်ကျပ် ၃၀,၂၃၂,၃၃၀.၂၆နှင့် ကမ္ဘောဇဘဏ်(လှိုင်သာယာ)တွင် ဒေါ်ရွှေဒွေးအမည်ဖြင့် (၆.၂.၂၀၁၅) နေ့တွင် ငွေလက်ကျန်ကျပ် ၁၀,၀၉၅,၅၀၂.၇၅ ရှိကြောင်းတင်ပြထားပါသည်။

၉။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေကျပ် ၂၀ သိန်းအထက် ရရှိသော ဝန်ထမ်းများ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူဖြတ်တောက်၍ အခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၀။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများအား လစာအပြင် ရက်မှန်ကြေး၊ ရက်ပိုကြေးပေးခြင်း၊ နှစ်သစ်ကူးကာလများတွင် ဝန်ထမ်းများအား ပျော်ပွဲရွှင်ပွဲများ ဆောင်ရွက်ပေးခြင်းနှင့် ဝန်ထမ်းများ၏ လုပ်ရည်ကိုင်ရည်အလိုက် ဆုကြေးများ ပေးခြင်း၊ အဆောင်စီစဉ်ပေးခြင်း၊ ကြိုပို့ယာဉ်များ စီစဉ်ထားရှိခြင်း၊ ဝန်ထမ်းသက်သာဆိုင် ဖွင့်လှစ်ရောင်းချပေးခြင်း၊ ရက်ကြီးအခါကြီးများတွင် အလှူအတန်းနှင့် ပျော်ပွဲရွှင်ပွဲများ စီစဉ်ပေးခြင်း၊ ပိတ်ရက်ရှည်ကာလများတွင် ခရီးသွား ပို့ဆောင်ပေးခြင်းနှင့် ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ဆေးခန်းဖွင့်လှစ်ပေးခြင်း၊ လူမှုဖူလုံရေး အသင်းသို့လည်း အသင်းဝင်ပေးခြင်းဖြင့် ဝန်ထမ်းအခွင့်အရေး အပြည့်အဝရရှိရေးကို စီစဉ်ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီးမဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အားမရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်များဖြင့် ကုန်ထုတ်လုပ်မှုစဉ်ဆက်မပြတ်စေရေးအတွက် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၂။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်နေ့တွင် ကျင်းပသော (၇/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ဘက်စ်တ်ဖိုးကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄)၊ မြေဧရိယာ ၂.၇၇၃ ဧက (၁၁၂၀၉.၇၉ စတုရန်းမီတာ)တွင် မြေဧရိယာ၀.၅၇ဧက (၂၃၀၆.၇၁စတုရန်းမီတာ) အကျယ်အ၀န်းရှိသော အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vests နှင့် Pants စသည့် အ၀တ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၄၂) / စိုက်မွေး
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉. ၃. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ - ၁၁၆၆ / ၂၀၁၅ (၃၆၉)

၁။ ဘက်စ်တ်ဖိုး ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄)၊ မြေဧရိယာ ၂. ၇၇ ဧက(၁၂၀၇၉၀ စတုရန်းပေ) မှမြေဧရိယာ ၀. ၆ဧက(၂၅၀၀၀စတုရန်းပေ)ပေါ်ရှိ မြေနှင့်အဆောက်အဦတွင် CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vests နှင့် Pants စသည့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြား ပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၅၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄)၊ မြေဧရိယာ ၂. ၇၇ဧကတွင် ၁၀၀'x ၂၅၀' (၂၃၂၂. ၅၇၆ စတုရန်းမီတာ)အကျယ်အဝန်းရှိသော အဆောက်အဦအား တစ်နှစ်လျှင် ၂၆,၄၀၀,၀၀၀ကျပ် နှုန်းဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ရာ(၁ စတုရန်းမီတာလျှင် USD 10.53 /year) နှုန်း၊ စုစုပေါင်း(၁)နှစ်လျှင် (USD 24456.72528 )နှုန်းဖြင့် (၆)နှစ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂. ၄. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၇/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၄)အရ ဘက်စ်တ်ဖိုးကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဘက်စ်တ်ဖိုးကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/15.,(8)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**

**ပြည်ထောင်စုဝန်ကြီးရုံး**

RT-2873
6.4.15

**စာအမှတ်** ၂/၂၂၀(ခ)(၆)/(၂၆၂ /၂၀၁၅)

**ရက်စွဲ** ၂၀၁၅ခုနှစ်၊ဧပြီလ ၂ ရက်

**သို့**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

7-683
8.4.15

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၃-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၁၆၆/၂၀၁၅(၃၆၈)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဘက်စ်ဖိုးကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄)၊ မြေဧရိယာ (၂.၇၇) ဧက (၁၂၀၇၉၁ စတုရန်းပေ) မှ မြေဧရိယာ (၀.၆) ဧက (၂၅၀၀၀ စတုရန်းပေ) ပေါ်ရှိ မြေနှင့် အဆောက်အဦတွင် CMP စနစ်ဖြင့် Jacket ၊ Blouse ၊ Skirt ၊ Shirt ၊ Vests နှင့် Pants စသည့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံခွင့်လျှောက်ထားခြင်း၊ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်၊ စက်ရုံတည်ဆောက်ပြုပြင်ရေးလုပ်ငန်းများကို ခွင့်ပြုမိန့်ရပြီး ရက်ပေါင်း(၃၀)အတွင်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပြီး ကုန်ပစ္စည်းများအား (၁၀၀%) နိုင်ငံခြားသို့ တင်ပို့ရောင်းချမည်ဖြစ်ကြောင်း၊ မြေငှားစာချုပ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများ၊ ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များ၊ အသုံးပြုမည့် စက်ပစ္စည်း နှင့် ကုန်းကြမ်းပစ္စည်းစာရင်း ၊ ဝန်ထမ်းပေါင်း(၅၀၀)ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ပြီး စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံ များ၊ လုပ်ငန်းလည်ပတ်ခြင်းမှရရှိမည့် အသားတင်အမြတ်ငွေမှ ၂% ကို CorporateSocial Responsibility (CSR) ရန်ပုံငွေအဖြစ် သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ စက်ရုံတည်ဆောက်ပြုပြင်ရေး လုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ဖုန်အမှုန်များနှင့် စွန့်ပစ် ပစ္စည်းများ / စွန့်ပစ်ရေများထွက်ရှိနိုင်ခြင်း၊ အထည်ချုပ်လုပ်ခြင်းလုပ်ငန်းတွင် အဓိကအသုံးပြုမည့် Fabric ကုန်ကြမ်းပိတ်စ/ပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့် ပိတ်ဖြတ်စများ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင်လေထုနှင့် မြေထုညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ခြင်း ၊ ပိတ်စဖြတ်ခြင်း ၊ ပုံစံညှပ်ခြင်း ၊ အထည်ချုပ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စက်များ အသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ဘက်စ်ဖိုးကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက် အမှတ်(၄)၊ မြေဧရိယာ (၂.၇၇) ဧက (၁၂၀၇၉၀ စတုရန်းပေ) မှ မြေဧရိယာ (၀.၆) ဧက (၂၅၀၀၀ စတုရန်းပေ) ပေါ်ရှိ မြေနှင့် အဆောက်အဦတွင် CMP စနစ်ဖြင့် Jacket ၊ Blouse ၊ Skirt ၊ Shirt ၊ Vests နှင့် Pants စသည့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲ ချမှတ်ခြင်း ၊ ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက် အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု(CSR)အတွက် အမြတ်ငွေ ၏ (၂%) အား အသုံးပြုရန်အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊

(ခ) စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ် ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင် အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထား ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊၂၁-စမ (၂)၂၀၁၄-၂၀၁၅(၅၅၇၀)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ် လ ၂၅ ရက်

17-850
7.5.15

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၃.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၁၆၆/ ၂၀၁၅ (၃၆၇)

၁။ Best Four Co., Ltd.သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄) တွင် CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt,Vests နှင့် Pants စသည့် အဝတ်အထည် မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vests နှင့် Pants စသည့် အဝတ်အထည် မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) CMP လုပ်ခနှုန်း တင်ပြထားချက် ဆီလျော်မှု ရှိပါသည်။

(စ) ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်း သုံးစွဲမှုနှုန်းတင်ပြချက်တွင် Shirt နှင့် Skirt အတွက် Thread သုံးစွဲမှုနှုန်း များနေသဖြင့် လျှော့နည်းပြင်ဆင်တင်ပြရန်နှင့် Blouse အတွက် Thread သုံးစွဲမှုနှုန်း ဖြည့်စွက်တင်ပြရန် လိုအပ်ပါသည်။

(ဆ) နှစ်အလိုက် ကုန်ကြမ်းနှင့် ပူးတွဲသုံးပစ္စည်းလိုအပ်ချက်အား နှစ်အလိုက် ကုန်ထုတ်လုပ်မှုနှင့် ကုန်ကြမ်းသုံးစွဲမှုနှုန်းအပေါ် မူတည်၍စိစစ်ရာတွင် တွက်ချက်မှုများ မှားယွင်းတင်ပြထားသဖြင့် ဆီလျော်အောင် ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဇ) စက်အင်အားနှင့် လူအင်အား ဆီလျော်မှုရှိသော်လည်း ကုန်ထုတ်လုပ်မှုတိုးမြှင့်တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Best Four Co., Ltd.မှ CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vests နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၅.၃.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အထည်အလိပ်လုပ်ငန်း

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ**

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၅(၃၀၃၂)

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ မတ်လ၂၅ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Best Four Company Limited မှ CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ် ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၃-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၃/မ - ၁၁၆၆/၂၀၁၅(၃၆၆)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် (၂၄)၊ မြေကွက်အမှတ်(၄)၊ မြေဧရိယာ ၂.၇၇ ဧက(၁၂၀၇၉၀ စတုရန်းပေ)မှ မြေဧရိယာ ၀.၆ ဧက (၂၅၀၀၀ စတုရန်းပေ)ပေါ်ရှိ မြေနှင့် အဆောက်အဦ တွင် Best Four Company Limited သည် CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ရုံးလုပ်ငန်းအဖွဲ့ခေါင်းဆောင်၊ အလုပ်ရုံနှင့်အလုပ်သမားဥပဒေ စစ်ဆေးရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးကျော်ကျော်ထွန်းနှင့် အထည်ချုပ်စက်ရုံ အမှတ် (၁၇) စက်ရုံမှူး ဒေါ်လှသီတာတို့သည် ၁၇-၃-၂၀၁၅ ရက်နေ့တွင် တာဝန်ရှိသူများကို မေးမြန်းခဲ့ ပါသည်။

၂။ Best Four Company Limited ၏ အဆိုပြုချက်အပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိ ရပါသည်-

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| **ချုပ်ထည်** | **တစ်ထည်လိုအပ်ချက် နှုန်းထား** | **ကိုက်ညီမှုရှိ/မရှိ** |
|---|---|---|
| 1. Jacket | 1.54 yds/pc | ကိုက်ညီမှုရှိပါသည်။ |
| 2. Blouse | 1.10 yds/pc | ။ |
| 3. Skirt | 0.80 yds/pc | ။ |
| 4. Shirt | 1.6 yds/pc | ။ |
| 5. Vest | 0.5 yds/pc | ။ |
| 6. Pant | 1.4 yds/pc | ။ |

အဆိုပြုချက်ပါ ကုန်ကြမ်း လိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက်နှုန်းထား၊ တားမြစ် သတ်မှတ်စံနှုန်းထားများနှင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသည် -

| ချုပ်ထည် | အဆိုပြုထုတ်လုပ်မှု အရေအတွက် | တစ်ထည်လိုအပ် ချက်နှုန်းထား | လိုအပ်မည့် ကုန်ကြမ်းအရေအတွက် |
|---|---|---|---|
| 1. Jacket | 62400 pcs | 1.54 yds/pc | 96096 yds |
| 2. Blouse | 109200 pcs | 1.10 yds/pc | 120120 yds |
| 3. Skirt | 78000 pcs | 0.80 yds/pc | 62400 yds |
| 4. Shirt | 78000 pcs | 1.6 yds/pc | 124800 yds |
| 5. Vest | 93600 pcs | 0.5 yds/pc | 46800 yds |
| 6. Pant | 160000 pcs | 1.4 yds/pc | 224000 yds |

အဆိုပြုချက်ပါ ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း 674216 yds ကုန်ကျမည်ဖြစ်၍ အဆိုပြုချက်တွင် ဖော်ပြပါပမာဏနှင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသည်။ Thread သုံးစွဲမှုနှင့်စပ်လျဉ်း၍ Blouse ချုပ်ရာတွင် သုံးစွဲမှု ဖော်ပြထားမှု မရှိခြင်း၊ Shirt ချုပ်ရာတွင် သုံးစွဲမှုများနေခြင်းကြောင့် ပြင်ဆင်တင်ပြသင့်ပါသည်။

## (ခ) CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ

အဆိုပြုချက်ပါ CMP လက်ခ နှုန်းထားများသည် လက်ရှိ လက်ခ နှုန်းထား နှင့် နှိုင်းယှဉ်ရာတွင် ဆီလျော်မှုရှိကြောင်း တွေ့ရှိရပါသည် -

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း လက်ရှိ CMP လက်ခနှုန်းထား |
|---|---|---|
| 1. Jacket | 33 US$/ Dz | 20-24 US$/ Dz |
| 2. Blouse | 24 US$/Dz | 10-12 US$/Dz |
| 3. Skirt | 12 US$/Dz | 10-12 US$/Dz |
| 4. Shirt | 24 US$/Dz | 10-12 US$/Dz |
| 5. Vest | 24 US$/Dz | 10-12 US$/Dz |
| 6. Pant | 18 US$/Dz | 10-12 US$/Dz |

## (ဂ) နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ Jacket ၊ Blouse ၊ Skirt ၊ Shirt၊ Vest နှင့် Pant တို့ဖြစ်ပြီး အဓိကစက်အနေဖြင့် Single Needle Machines ၃၀၀ လုံး၊ Over Lock Machines ၅၉ လုံး၊ Double Needle Machines ၂၁ လုံးဟု ဖော်ပြထားခြင်း၊ Operators ၃၅၀ ဦး၊ Helpers ၈၀ ဦး၊ Quality Control Workers ၁၀ ဦးတို့သာ ခန့်ထား လုပ်ကိုင်စေပါက စက်အရေအတွက်များပြီး Cutting နှင့် Finishing အတွက် လူအင်အားခွဲချထားပါက စက်အားလုံး လည်ပတ်

နိုင်ခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ စက်အရေအတွက် အခြေခံတွက်ချက်မည်ဆိုပါက -

| ချုပ်ထည် | ကုန်ထုတ်စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|---|
| 1. Jacket | စက်(၁)လိုင်း | 240 pcs/10 hour | 74400 pcs |
| 2. Blouse | စက်(၁)လိုင်း | 400 pcs/10 hour | 124000 pcs |
| 3. Skirt | စက်(၁)လိုင်း | 400 pcs/10 hour | 124000 pcs |
| 4. Shirt | စက်(၁)လိုင်း | 400 pcs/10 hour | 124000 pcs |
| 5. Vest | စက်(၁)လိုင်း | 480 pcs/10 hour | 148800 pcs |
| 6. Pant | စက်(၁)လိုင်း | 480 pcs/10 hour | 148800 pcs |

အဆိုပြုချက်ပါ ထုတ်လုပ်မှုနှုန်းထားနှင့် နှိုင်းယှဉ်ကြည့်ရာ အမှတ်စဉ်(၆)တစ်ခုသာ အဆိုပြုချက်နှုန်းထားနှင့်အညီ ထုတ်လုပ်နိုင်ခြင်း မရှိကြောင်းတွေ့ရှိရပြီး နောက်နှစ်များတွင် အဆိုပြုချက်တိုးမြှင့်လာမည်ဖြစ်၍ တိုးမြှင့်ထုတ်လုပ်ရန် လူဦးရေထပ်မံခန့်ထားရမည်ဖြစ်ပါသည်-

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ဒါဇင်) |
|---|---|---|
| 1. Jacket | 62400 pcs | 74400-75000 pcs |
| 2. Blouse | 109200 pcs | 124000-125000 pcs |
| 3. Skirt | 78000 pcs | 124000-125000 pcs |
| 4. Shirt | 78000 pcs | 124000-125000 pcs |
| 5. Vest | 93600 pcs | 148800-149000 pcs |
| 6. Pant | 160000 pcs | 148000-149000 pcs |

၃။ သို့ဖြစ်၍ Best Four Company Limited အား ပြင်ဆင်တင်ပြသင့်သည်များကို ပြင်ဆင်တင်ပြစေပြီးမှသာ ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက် သင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်

☎ -၀၁-၆၅၇၀၁၂၈ | စာအမှတ်၊ရက- ၃/ မ- ၁၁၆၆/၂၀၁၇ (ပြဿ)

🖷 -၀၁-၆၅၈၁၄၁ | ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေလ ၁၉ ရက်

17-1007 / 2918

**အဆိုပြုလွှာအပေါ်ထပ်မံစိစစ်ချက်**

ဘက်စ်တ်ဖိုး ကုမ္ပဏီလီမိတက်သည် CMP စနစ်ဖြင့်Jacket, Blouse, Skirt, Shirt, Vestsနှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းအတွက် ပေးပို့ခဲ့သော သဘောထားမှတ်ချက်နှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာန၏ လမ်းညွှန်ချက်နှင့်အညီ ပြန်လည်ပြင်ဆင် တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန်မေတ္တာရပ်ခံအပ်ပါသည်။

[illegible signature]
၁၉.၅.၂၀၁၇

အတွင်းရေးမှူး(ကိုယ်စား)

(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁။ | စက်မှုဝန်ကြီးဌာန | (တင်ဝင်း) | လက်ထောက်အတွင်းဝန် (ညွှန်ကြားရေးမှူး) စက်မှုဝန်ကြီးဌာန | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | [signature] ၂၈.၅.၂၀၁၇ |
| ၂။ | အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | ဦးအောင်ကျော်ဝင်း | [illegible] | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | [signature] |

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

1C-320
12-6

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၅(၅၈၁၁)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၁ ရက်

RT-3263
2-5-15

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MI-1107
15-6

အကြောင်းအရာ။ **Best Four Company Limited မှ CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်း အဆိုပြုလွှာထပ်မံစစ်ဆေးခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၅-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၃/မ - ၁၁၆၆/၂၀၁၅(၆၆၇)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်ရှိ Best Four Company Limited ၏ CMP စနစ်ဖြင့် အဝတ်အထည် မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း အဆိုပြုလွှာထပ်မံစစ်ဆေးခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ဆောင်ရွက် ချက်ကို အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ဦးဝင်းရှိန် | CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၊ ဥက္ကဋ္ဌ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန | လက်ခံနိုင်ပါသည်။ | |

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)

အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
Best Four Company Limited
ရုံးလက်ခံ
မှော်စာတွဲ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း

ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသော

# "BEST FOUR COMPANY LIMITED"

၏

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vests နှင့် Pants စသည့်အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အဆိုပြုလွှာ

၂၀၁၅ခုနှစ်၊ လ၊ ( )ရက်

# BEST FOUR COMPANY LIMITED

MYAY KWET NO(4), No(4) MAIN ROAD, NGWEPINLAE INDUSTRIAL ZONE, HLAING THAR YAR TOWNSHIP, YANGON.
PH : 09 73884888

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

ရက်စွဲ။ ။ ၊ ဇန်နဝါရီလ၊ ၂၀၁၅

အကြောင်းအရာ။ **။ CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vest နှင့် Pants စသည့်အဝတ်အထည် မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်တင်ပြခြင်း။**

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ "**Best Four Company Limited**"သည် ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄)၊ မြေဧရိယာ ၂.၇၇၃ဧက (၁၁၂၀၉.၇၉စတုရန်းမီတာ)တွင် မြေဧရိယာ ၀.၅၇ဧက (၂၃၀၆.၇၁စတုရန်းမီတာ)ရှိသောအဆောက်အဦးအား ငှားရမ်း၍ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ပြီး CMP စနစ်ဖြင့် **Jacket, Blouse, Skirt, Shirt, Vest နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်များ၏ CMP စနစ်ဖြင့်အထည်ချုပ်စက်ရုံတည်ထောင်လုပ်ကိုင်ခြင်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ထုတ်ပေးပါရန်အတွက် အဆိုပြုလွှာကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဦးရန်းစံ

မန်နေဂျင်းဒါရိုက်တာ

"Best Four Company Limited"

# BEST FOUR COMPANY LIMITED

MYAY KWET NO(4), No(4) MAIN ROAD, NGWEPINLAE INDUSTRIAL ZONE, HLAING THAR YAR TOWNSHIP, YANGON.
PH : 09 73884888

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

ရက်စွဲ။ ။ ၊ ဇန်နဝါရီလ၊ ၂၀၁၅

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်နှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၂၀ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ "**Best Four Company Limited**"သည် ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄)၊ မြေဧရိယာ ၂.၇၇၃ဧက (၁၁၂၀၉.၇၉စတုရန်းမီတာ)တွင် မြေဧရိယာ ၀.၅၇ဧက (၂၃၀၆.၇၁စတုရန်းမီတာ)ရှိသောအဆောက်အဦးအား ငှားရမ်း၍ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ပြီး CMP စနစ်ဖြင့် **Jacket, Blouse, Skirt, Shirt, Vest နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ "**Best Four Company Limited**" သည်ရင်းနှီးမြှုပ်နှံမှုအဖြစ် ကျပ် (၆၂၉.၅၇၆ သန်း)ကို ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ ၄င်းတွင်ငွေသားကျပ် (၁၀၀ သန်း)၊ ပြည်ပမှတင်သွင်းသောစက်ပစ္စည်းများအတွက် USD ၄၀၆၁၂ (မြန်မာကျပ် ၄၀၆.၁၂သန်း)၊ ပြည်တွင်းမှဝယ်ယူသောစက်ပစ္စည်းများအတွက် ကျပ် (၇၆.၇၄သန်း) နှင့် ရုံးသုံးပစ္စည်း ကျပ် ၄၆.၇၁၆ သန်းကို ထည့်ဝင်မည်ဖြစ်ပါသည်။ အဆိုပါလုပ်ငန်းမှ နိုင်ငံတကာအဆင့်မှီ အဝတ်အထည်များထုတ်လုပ်မည်ဖြစ်ပြီး ပြည်ပသို့ CMP စနစ်အရ ၁၀၀ရာခိုင်နှုန်း တင်ပို့မည်ဖြစ်ပါသည်။

အဆိုပါလုပ်ငန်းတည်ထောင်ခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည်ဖြစ်ပြီး နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေရှာဖွေပေးနိုင်မည်ဖြစ်သည်။ ထို့အပြင် အခွန်အကောက်များ တိုးတက်ရရှိစေခြင်းနှင့် ဒေသဆိုင်ရာဖွံ့ဖြိုးတိုးတက်မှုကို ဖြစ်ပေါ်စေခြင်းကိုပါ တစ်ခန်းတစ်ကဏ္ဍ ပါဝင်ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏ စီးပွားရေး ဖွံ့ဖြိုးတိုးတက်ရန်အတွက်လည်းကောင်း၊ ကျွန်တော်များ၏ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားများ၊ စာရွက်စာတန်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ

(ဃ) မြေငှားစာချုပ် (မူကြမ်း)

(င) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်း အထောက်အထားများ

လေးစားစွာဖြင့်

ဦးရန်းစံ

မန်နေဂျင်းဒါရိုက်တာ

"Best Four Company Limited"

# BEST FOUR COMPANY LIMITED

MYAY KWET NO(4), No(4) MAIN ROAD, NGWEPINLAE INDUSTRIAL ZONE, HLAING THAR YAR TOWNSHIP, YANGON.
PH : 09 73884888

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၅ခုနှစ်၊ ဖေဖော်ဝါရီလ (၁၀)ရက်

အကြောင်းအရာ။ ။ **CMP စနစ်ဖြင့် Jacket, Blouse, Skirt, Shirt, Vest နှင့် Pants စသည့်အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ဝန်ခံကတိပြုချက် တင်ပြခြင်း။**

အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အဆိုပါလုပ်ငန်းတည်ထောင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် ထုတ်ပေးပါရန် အဆိုပြုတင်ပြလျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် အောက်ပါအတိုင်းဝန်ခံကတိပြုပါသည်။

(၁) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားသား မည်သူတစ်ဦးတယောက်မျှပါဝင်ပိုင်ဆိုင်ခြင်း လုံးဝမရှိကြောင်း ဝန်ခံကတိပြုပါသည်။

(၂) နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သတ်၍ သတ်မှတ်ပြဌာန်းထားသည့် စည်းကမ်းချက်များကို ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၃) CMP စနစ်ဖြင့်ရရှိသော နိုင်ငံခြားငွေကို သတ်မှတ်ထားသည့် ဘဏ်တို့တွင် စာရင်းဖွင့်လှစ်အပ်နှံ၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၄) ဤအဆိုပြုချက် လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများကိုနိုင်ငံတော်မှ သတ်မှတ်ထားသည့် လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(၅) အလုပ်သမား တစ်ဦးချင်း၏ လုပ်ခလစာကို နောက်ဆက်တွဲဇယားဖြင့် ဖော်ပြထားပြီး၊ ငွေလစာနှုန်း များသည် အမှန်တကယ်ရရှိသည့် လုပ်ခများဖြစ်ပြီး အဆိုပါလစာငွေသည် ကာလဒေသပေါက်ဈေးနှင့် ကိုက်ညီမှုရှိကြောင်းတင်ပြအပ်ပါသည်။

(၆) အဆိုပြုလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းနှင့် အသုံးပြုသော စက်ပစ္စည်းများသည်လည်း အသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၇) ကုန်ချောပစ္စည်းများကို CMPစာချုပ် သဘောတူညီချက်အရ ပစ္စည်းမှာယူသူ၏ ညွှန်ကြားချက်အတိုင်း တင်ပို့သွားမည် ဖြစ်ပြီး ကုန်ကြမ်းနှင့် ကုန်ချောများကို ကုန်းလမ်း၊ရေလမ်းနှင့် လေလမ်းတို့မှတဆင့် တင်သွင်းခြင်းနှင့် တင်ပို့ခြင်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

(၈) လျှပ်စစ်ဓါတ်အား မရသည့်အချိန်တွင် စက်ရုံ၏မီးစက်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

(၉) "**Best Four Company Limited**"အနေဖြင့်ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်၊ တိုင်း၊ ဒေသဆိုင်ရာ စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှု ဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိပြီး ဖြစ်ကြောင်းဝန်ခံ ကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးရှန်းစံ

မန်နေဂျင်းဒါရိုက်တာ

"Best Four Company Limited"

# BEST FOUR COMPANY LIMITED

MYAY KWET NO(4), No(4) MAIN ROAD, NGWEPINLAE INDUSTRIAL ZONE, HLAING THAR YAR TOWNSHIP, YANGON.
PH : 09 73884888

## အလုပ်သမားများ၏ ဝင်ငွေခွန်ပေးဆောင်ရေးနှင့် ပတ်သက်၍ ဝန်ခံကတိပြုချက်

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ "**Best Four Company Limited**"သည် ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၄)၊ မြေဧရိယာ ၂.၇၇၃ဧက (၁၁၂၀၉.၇၉စတုရန်းမီတာ)တွင် မြေဧရိယာ ၀.၅၇ဧက (၂၃၀၆.၇၁စတုရန်းမီတာ)ရှိသောအဆောက်အဦးအား ငှားရမ်း၍ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ပြီး CMP စနစ်ဖြင့် **Jacket, Blouse, Skirt, Shirt, Vest နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

ကုမ္ပဏီ၏ တစ်နှစ်လစာကျပ် (၂,၀၀၀,၀၀၀)နှင့်အထက်ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန် ပေးဆောင် ခြင်းနှင့် ပတ်သက်၍ ကုမ္ပဏီကတာဝန်ယူပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်



ဦးရန်းစံ

မန်နေဂျင်းဒါရိုက်တာ

"Best Four Company Limited"

